မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အမှုတွဲမှတ်တမ်း

ကုမ္ပဏီအမည် - Myanmar Car and Motorcycle Sale Center Co., Ltd

လုပ်ငန်းအမည် - SKD- စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၉-၆-၂၀၂၀ | အမှုတွဲလက်ခံရရှိခြင်း | |
| ၂။ | ၉-၆-၂၀၂၀ | ငွေလက်ခံရရှိ (ပုံစံ ၅-၁) | |
| ၃။ | ၁၆-၆-၂၀၂၀ | သဘောထားမှတ်ချက်တောင်းခံခြင်း<br>(မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး ၊ ပတ်ဝန်းကျင် ၊ စက်မှုကြီးကြပ် ၊ ပြည်နယ်လျှပ်စစ် ၊ ကုန်းလမ်းပို့ဆောင်ရေး) | |
| ၄။ | ၂၂-၆-၂၀၂၀ | ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| ၅။ | ၂၃-၆-၂၀၂၀ | မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| ၆။ | ၂၅-၆-၂၀၂၀ | ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာရုံးမှ သဘောထားပြန်ကြားခြင်း | |
| ၇။ | ၂၆-၆-၂၀၂၀ | မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| ၈။ | ၂၉-၇-၂၀၂၀ | မွန်ပြည်နယ်အစိုးရအဖွဲ့မှ သဘောထားပြန်ကြားခြင်း | |
| ၉။ | ၅-၈-၂၀၂၀ | ကော်မတီအစည်းအဝေးကျင်းပခြင်း | |
| ၁၀။ | ၁၂-၈-၂၀၂၀ | အတည်ပြုမိန့်ကတ်ပြားထုတ်ပေးခြင်း (အတည်ပြုမိန့်အမှတ် မပန-၀၀၆/၂၀၂၀) | |
| ၁၁။ | ၂၇-၈-၂၀၂၀ | အမှုတွဲအား သက်ဆိုင်ရာရင်း ၄၂၁ နှင့်ကြီးကြပ်သို့ပေးပို့ခြင်း | |
| | | | |



Form (5-B)

# THE REPUBLIC OF THE UNION OF MYANMAR

## Mon State Investment Committee

## Endorsement

**Endorsement No.** MON - 006/2020 Date 12 August 2020

This endorsement is issued by the Mon State Investment Committee according to the Section 25, Sub-section (d) of the Myanmar Investment Law-

(1) **Name of Investor** U SOE MIN OO

(2) **Citizenship** MYANMAR

(3) **Residence Address** HOLDING NO.(15/7)+(15/9), KWIN NO.(30/A), OAKPHO KWIN, MYOPART STREET, MYAENIGONE QUARTER,MAWLAMYINE

(4) **Name and Address of Principle Organization** -

(5) **Place of Incorporation** -

(6) **Type of business** MANUFACTURING OF MOTORCYCLE BY SKD SYSTEM

(7) **Place(s) of investment Project** HOLDING NO.(15/7)+(15/9), KWIN NO.(30/A), OAKPHO KWIN, MYOPART STREET, MYAENIGONE QUARTER, MAWLAMYINE

(8) **Amount of Foreign Capital** -

(9) **Period for Foreign Capital to be brought in** -

(10) **Total Amount of Capital (Kyat)** 503.245 MILLION ( INCLUDING US$ 0.075 MILLION)

(11) **Construction Period** 6 MONTHS

(12) **Validity of Endorsement** -

(13) **Form of Investment** WHOLLY MYANMAR OWNED

(14) **Name of Company Incorporated in Myanmar** MYANMAR CAR & MOTORCYCLE SALE CENTRE COMPANY LIMITED

(Dr. AYE ZAN)

Chairman



ပုံစံ (၅-ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

**အတည်ပြုမိန့်အမှတ်** မပန- ၀၀၆ /၂၀၂၀ ၂၀၂၀ ပြည့်နှစ်၊ ဩဂုတ် လ ၁၂ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးစိုးမင်းဦး

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** ဦးပိုင်အမှတ် (၁၅/၇)+(၁၅/၉)၊ ကွင်းအမှတ် (၃၀/က)၊ အုတ်ဖိုကွင်း၊ မြို့ပတ်လမ်း၊ မြေနီကုန်းရပ်ကွက်၊ မော်လမြိုင်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)** ဦးပိုင်အမှတ် (၁၅/၇)+(၁၅/၉)၊ ကွင်းအမှတ် (၃၀/က)၊ အုတ်ဖိုကွင်း၊ မြို့ပတ်လမ်း၊ မြေနီကုန်းရပ်ကွက်၊ မော်လမြိုင်မြို့

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်)** ကျပ် ၅၀၃.၂၄၅ သန်း (အမေရိကန်ဒေါ်လာ ၀.၀၇၅ သန်းအပါအဝင် စုစုပေါင်းကျပ် ငါးရာ့သုံးသန်းနှင့် နှစ်သိန်းလေးသောင်းငါးထောင်တိတိ)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၆ လ

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** MYANMAR CAR & MOTORCYCLE SALE CENTRE COMPANY LIMITED

(ဒေါက်တာအေးဇံ)

ဥက္ကဋ္ဌ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**
မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

ထယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅
ဖက်စ် - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/ ၂ /နသေ/ ၂၀၂၀ ( ၈၄၀ )
ရက်စွဲ၊၂၀၂၀ ပြည့်နှစ်၊ ဩဂုတ် လ ၁၂ ရက်

အကြောင်းအရာ။ **Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ ၂၀၂၀ပြည့်နှစ် ဇွန်လ ၉ ရက် နေ့စွဲပါတင်ပြစာ

၁။ **Myanmar Car & Motorcycle Sale Centre Co.,Ltd.** မှ မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ မြေနီကုန်းရပ်ကွက်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် (၁၅/၇) + (၁၅/၉)၊ ကွင်းအမှတ်(၃၀/က)၊ အုတ်ဖိုကွင်းရှိ စုစုပေါင်းမြေဧရိယာ(၁.၅၉)ဧကေတွင် SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်း နှင့်ပတ်သက်ပြီး ၂၀၂၀ ပြည့်နှစ်၊ ဩဂုတ်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar Car & Motorcycle Sale Centre Co.,Ltd. အား SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ မပန- ၀၀၆ /၂၀၂၀ ကို ထုတ်ပေးလိုက်သည်။

၂။ **Myanmar Car & Motorcycle Sale Centre Co.,Ltd.** အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည် –

(က) **Myanmar Car & Motorcycle Sale Centre Co.,Ltd.** အနေဖြင့် ဤအတည်ပြုမိန့်အရ **SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်း** လုပ်ငန်းအား ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ

ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် ဤအတည်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာတွင် ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက်အကောင်အထည် ဖော်ရမည်။

(ဂ) Myanmar Car & Motorcycle Sale Centre Co.,Ltd. အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

(စ) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ ရမည်။

(ဆ) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါအသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကော်မရှင်၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ်ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar Car & Motorcycle Sale Centre Co.,Ltd. အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၆၅(ဃ)အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Myanmar Car & Motorcycle Sale Centre Co.,Ltd. သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ ပေးပို့ရမည်။

(ဒေါက်တာအေးဇံ)
ဥက္ကဋ္ဌ

Myanmar Car & Motorcycle Sale Centre Co.,Ltd.
ဖြန့်ဝေခြင်း
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပြည်ထဲရေးဝန်ကြီးဌာန
စီမံကိန်း၊ ဘဏ္ဍာရေး နှင့် စက်မှုဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန




၂၀၂၀ ပြည့်နှစ်၊ ဩဂုတ်လ ၅ ရက်( ဗုဒ္ဓဟူးနေ့)၊ မွန်းလွဲ (၁၄:၀၀)နာရီအချိန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ ရုံးအစည်းအဝေးခန်း၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ (၃/၂၀၂၀) အစည်းအဝေးမှတ်တမ်း

**အစည်းအဝေးတက်ရောက်ကြသူများ**

၁။ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များ အစည်းအဝေး တက်ရောက်ကြပါသည်-

| | | |
|---|---|---|
| (က) | ဒေါက်တာအေးဇံ<br>မွန်ပြည်နယ်ဝန်ကြီးချုပ် | ဥက္ကဋ္ဌ<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ခ) | ဦးဝဏ္ဏကျော်<br>ပြည်နယ်စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဂ) | ဦးတင်ညို<br>ပြည်နယ်ဦးစီးမှူး<br>စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဃ) | ဦးအောင်အောင်လေး<br>ပြည်နယ်ဦးစီးမှူး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (င) | ဦးဝင်းဘို<br>ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာမှူး<br>လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (စ) | ဦးလှဝင်းတင်<br>အတွင်းရေးမှူး၊ မွန်ပြည်နယ်အစိုးရအဖွဲ့ | ခေတ္တအတွင်းရေးမှူး<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဆ) | ဦးမြင့်သန်းဝင်း | ညွှန်ကြားရေးမှူး<br>မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး |

၂။ သီးခြားဖိတ်ကြားထားသည့် အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးတက်ရောက်ကြပါသည်-

| | | |
|---|---|---|
| (က) | Mr. Chen Yuting<br>ဒါရိုက်တာ | Kim Chain Yue Co.,Ltd. |
| (ခ) | ဒေါ်ဝင့်ရွှေစင် (စကားပြန်) | Kim Chain Yue Co.,Ltd. |
| (ဂ) | ဦးစိုးမင်းဦး<br>ဒါရိုက်တာ | Myanmar Car & Motorcycle Sale Centre Co.,Ltd. |
| (ဃ) | ဒေါ်အိကြာဖြူ<br>တာဝန်ခံ | Myanmar Hua Qiang Wood Industrial Co.,Ltd. |

(c) Mr.Tang Hui (ဒါရိုက်တာ) — Sen Hui Yuan International Trading Co.,Ltd.

(စ) ဦးမောင်မောင်လေး (စက်ရုံမှူး) — Sen Hui Yuan International Trading Co.,Ltd.

**အစည်းအဝေးမတက်ရောက်နိုင်သူများ**

၃။ မရှိပါ။

**ရည်ရွယ်ချက်**

၄။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ( ၂/၂၀၂၀) အစည်းအဝေးမှတ်တမ်းနှင့်အတည်ပြုမိန့်များထုတ်ပေးမှုအား မှတ်တမ်းတင်ရန်နှင့် အောက်ပါလုပ်ငန်းများအားဆွေးနွေးဆုံးဖြတ်ရန် –

(က) Kim Chain Yue Co.,Ltd. ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင် အမှတ်(N/၃၁)၊ ကွင်းအမှတ် ၁၁၆၂(ခ)၊ စန္ဒါးကြကွင်းတွင် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ၊

(ခ) Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင် အမှတ် ( ၁၅/၇+ ၁၅/၉)၊ ကွင်းအမှတ်(၃၀/က)၊ အုတ်ဖိုကွင်းတွင် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ၊

(ဂ) ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သံဖြူဇရပ်မြို့နယ်၊ စခန်းကြီးကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၈၃၈)၊ ကွင်းအမှတ်– O.S.S-9၊ ကြေးတိုင်ပြင်ကွင်းတွင် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နေသော Myanmar Hua Qiang Wood Industrial Co.,Ltd. က အတည်ပြုမိန့်တွင် လုပ်ငန်းအမျိုးအစားပြင်ဆင်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ၊

(ဃ) ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မုဒုံမြို့နယ်၊ တာပတွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂၂+၂၃/၁+၂၁/၂+၃၂/၃)၊ ကွင်းအမှတ် (၈၁၅)၊ သာယာကုန်းကွင်းတွင် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နေသော Sen Hui Yuan International Trading Co.,Ltd. က အတည်ပြုမိန့်တွင် ရင်းနှီးမြှုပ်နှံသူအမည်ပြင်ဆင်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စ။

**ဆွေးနွေးချက်များ**

၅။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီခေတ္တအတွင်းရေးမှူးက ယခင်မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၂/၂၀၂၀) တွင် ဆွေးနွေး ဆုံးဖြတ်ခဲ့သော အစည်းအဝေး မှတ်တမ်းနှင့် ယင်းအစည်းအဝေးဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်နိုင်ရေးအတွက် ဆွေးနွေးတင်ပြပါသည်။

၆။ ယင်းနောက် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ ခေတ္တအတွင်းရေးမှူးက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာသော Kim Chain Yue Co.,Ltd. ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း နှင့် Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်းအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးဆွေးနွေးဆုံးဖြတ်ပေးရန် တင်ပြပါသည်။

၇။ Kim Chain Yue Co.,Ltd. မှ ဒေါ်ဝင့်ရွှေစင် က ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(N/၃၁)၊ ကွင်းအမှတ်၁၁၆၂(ခ)၊ စန္ဒါးကြကွင်းတွင် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်မည့်အခြေအနေများ၊ ကုန်ကြမ်းများရယူမည့်အခြေအနေနှင့် ဒေသခံအမြဲတမ်းဝန်ထမ်း (၅၀) ဦး အလုပ်ခန့်ထားနိုင်မည့်အခြေအနေ၊ ထုတ်လုပ်မည့်လုပ်ငန်းစဉ်နှင့် ထုတ်လုပ်မှုပမာဏ၊ လျှပ်စစ်ဓါတ်အားရရှိမှုအခြေအနေ၊ ကုမ္ပဏီ၏ CSR ဆောင်ရွက်မည့်အစီအစဉ်များကို ရှင်းလင်းတင်ပြပါသည်။

၈။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က လုပ်ငန်းနှင့်ပတ်သက်ပြီး ကုန်ကြမ်းရယူမည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားရယူမှုအခြေအနေ၊ IEE ဆောင်ရွက်မည့်အခြေအနေများနှင့် ဒေသခံများ အလုပ်အကိုင်ရရှိနိုင်ရေးကိစ္စများကို မေးမြန်း ဆွေးနွေးပါသည်။

၉။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအဖွဲ့ဝင် ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ ဦးဝင်းဘိုက လုပ်ငန်းဆောင်ရွက်မည့် ရေးမြို့နယ်သည် နိုင်ငံတော်ဓါတ်အားလိုင်း မရရှိသေးကြောင်း ဆွေးနွေးပြောကြားခဲ့ရာ ကုမ္ပဏီမှ မိမိတို့အစီအစဉ်ဖြင့် 500 KVA generator (၁)လုံး တပ်ဆင် ဆောင်ရွက်မည် ဖြစ်ကြောင်း ပြန်လည်ဆွေးနွေးတင်ပြပါသည်။

၁၀။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအဖွဲ့ဝင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ညွှန်ကြားရေးမှူး ဦးအောင်အောင်လေးက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာ (IEE) ရေးဆွဲတင်ပြရန်၊ လုပ်ငန်းတည်နေရာသည် မြစ်နှင့်နီးသောကြောင့် ရေဆိုးရေညစ်များ မြစ်တွင်းသို့ မရောက်စေရေး သတိပြုဆောင်ရွက်ရန် ပြောကြားဆွေးနွေးခဲ့ရာ ကုမ္ပဏီတာဝန်ရှိသူက IEE အစီရင်ခံစာအား ၆ လအတွင်း ရေးဆွဲသွားမည်ဖြစ်ကြောင်း ကတိပြုပြောကြားပါသည်။

၁၁။ ယင်းနောက် Myanmar Car & Motorcycle Sale Centre Co.,Ltd. မှ ဒါရိုက်တာ ဦးစိုးမင်းဦးက မော်လမြိုင်မြို့၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် ( ၁၅/၇+ ၁၅/၉) ၊ ကွင်းအမှတ်(၃၀/က)၊ အုတ်ဖိုကွင်းတွင် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့်အခြေအနေအား ရှင်းလင်းတင်ပြ ပါသည်။

၁၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က လုပ်ငန်းနှင့် ပတ်သက်ပြီး စက်ပစ္စည်းအစိတ်အပိုင်းများအား ရယူမည့်နိုင်ငံအမည်၊ ဆိုင်ကယ်လိုင်စင်ရယူမည့် အခြေအနေများကို မေးမြန်းခဲ့ရာ ကုမ္ပဏီဒါရိုက်တာက ဆိုင်ကယ်အစိတ်အပိုင်းများအား ထိုင်းနိုင်ငံနှင့် ဗီယက်နမ်နိုင်ငံတို့မှ မှာယူတင်သွင်းတပ်ဆင်ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊ တရားဝင်လိုင်စင် ရရှိရေးနှင့် ပိုင်ရှင်အမည်ပေါက်ရရှိရေးအတွက် ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက် ပေးသွားမည်ဖြစ်ကြောင်း နှင့် လုပ်ငန်းမှာစက်ပစ္စည်းများတင်သွင်း၍ ပြန်လည်တပ်ဆင်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်ပြီး ဓါတုပစ္စည်းတစ်စုံတစ်ရာ အသုံးပြုခြင်းမရှိသည့်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုရှိမည် မဟုတ်ကြောင်း ပြန်လည်ဆွေးနွေး တင်ပြပါသည်။

၁၃။ ဆက်လက်၍ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ ခေတ္တအတွင်းရေးမှူးက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုမိန့်ကတ်ပြားတွင် လုပ်ငန်းအမျိုးအစားပြင်ဆင်ရန်တင်ပြလာသော Myanmar Hua Qiang Wood Industrial Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း နှင့် အတည်ပြုမိန့်ကတ်ပြားတွင် ရင်းနှီးမြှုပ်နှံသူအမည် ပြင်ဆင်ခွင့်ပြုရန် တင်ပြလာသော Sen Hui Yuan International Trading Co.,Ltd. ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း တို့အား အတည်ပြုမိန့် ပြင်ဆင်နိုင်ရေးအတွက် ဆုံးဖြတ်ပေးရန် တင်ပြပါသည်။

၁၄။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ သံဖြူဇရပ် မြို့နယ်၊ စခန်းကြီးကျေးရွာ၊ ဦးပိုင်အမှတ် (၈၃၈)၊ ကွင်းအမှတ်-O.S.S-9၊ ကြေးတိုင်ပြင်ကွင်းရှိ မြေဧရိယာ (၁၀.၀၈) ဧကတွင် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၅-၉-၂၀၁၈ ရက်စွဲပါ အတည်ပြုမိန့်အမှတ်၊ မပန-၀၀၅/၂၀၁၈ဖြင့် လုပ်ငန်းဆောင်ရွက်လျက်ရှိသော Myanmar Hua Qiang Wood Industrial Co.,Ltd. မှ တာဝန်ရှိသူ ဒေါ်အိကြာဖြူက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ထုတ်ပေးထားသည့် အတည်ပြုမိန့်ကတ်ပြားပေါ်ရှိ လုပ်ငန်းအမျိုးအစား (type of Business) တွင် **"ရာဘာသစ်အသုံးပြု၍အထပ်သားလွှာ နှင့် အချောသပ်အထပ်သားထုတ်လုပ်ခြင်းလုပ်ငန်း"** ဟုဖော်ပြထားခြင်းနှင့်ပတ်သက်ပြီး ကုမ္ပဏီ၏ အမှန်တကယ် ဆောင်ရွက်နေသည့်လုပ်ငန်းသည် **"ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း"** ဖြစ်ကြောင်း၊ အခြားသက်ဆိုင်ရာလိုင်စင်များဖြစ်သော စက်မှုကြီးကြပ်လိုင်စင်နှင့် သစ်စက် ( Saw Mill ) လိုင်စင်များ

တွင်လည်း **“ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း”** ဟုသာ ဖော်ပြထားကြောင်း၊ အတည်ပြုမိန့်စတင်လျှောက်ထားစဉ်က ကုမ္ပဏီအနေဖြင့် Investment Plan ရေးဆွဲနိုင်ရန် နှင့် ဌာနဆိုင်ရာ စာရွက်စာတမ်းများမစီမံနိုင်ခြင်း၊ ဥပဒေမကျွမ်းကျင်ခြင်းစသည့် အကြောင်းများကြောင့် ဥပဒေအကျိုးဆောင်ကုမ္ပဏီအား ဝန်ဆောင်မှုငှားရမ်း အသုံးပြုခဲ့ရကြောင်း၊ မူလလျှောက်လွှာပေါ်တွင် ဥပဒေအကျိုးဆောင်ကုမ္ပဏီ၏ မှားယွင်းဖော်ပြခဲ့မှုကြောင့် ဤကဲ့သို့လုပ်ငန်းအမျိုးအစားလွဲမှားခဲ့ရခြင်းဖြစ်ကြောင်း ၊ မူလအတည်ပြုမိန့်လျှောက်ထားလွှာတွင် ဖော်ပြခဲ့သည့် အချက်အလက်များအား တစ်စုံတရာပြောင်းလဲမှုမပြုဘဲ **“ရာဘာသစ်အသုံးပြု၍ အထပ်သားလွှာနှင့် အချောသပ်အထပ်သားထုတ်လုပ်ခြင်းလုပ်ငန်း”** အစား **“ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း”** ဟူသည့် စကားရပ်ကိုသာ ပြန်လည်ပြင်ဆင်လိုခြင်းဖြစ်ပါ ကြောင်း တင်ပြဆွေးနွေးပါသည်။

၁၅။ ဆက်လက်ပြီး မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၄-၅-၂၀၁၉ ရက်စွဲပါ အတည်ပြုမိန့်အမှတ် MON-006/2019 ဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ တာပတွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂၂+၂၃/၁+၂၁/၂+၃၂/၃)၊ ကွင်းအမှတ် (၈၁၅)၊ သာယာကုန်းကွင်းရှိ မြေဧရိယာ (၉.၀၅)ဧကတွင် ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်လျက်ရှိသော Sen Hui Yuan International Trading Co.,Ltd. မှ လုပ်ငန်း တာဝန်ခံ ဦးမောင်မောင်လေးက Sen Hui Yuan International Trading Co.,Ltd. သည် Mr. Yuan Lichi အစုရှယ်ယာ (၁%) နှင့် Mr. Dong Chang အစုရှယ်ယာ (၉၉%) ပါဝင်သော အစုရှင်ဒါရိုက်တာ ( ၂ ) ဦးဖြင့် ဖွဲ့စည်းထားသည့်ကုမ္ပဏီဖြစ်ကြောင်း၊ ယခုအခါ အဆိုပါကုမ္ပဏီ၏ အစုရှယ်ယာရှင်များမှာ တရုတ်နိုင်ငံရှိ Zhejiang Hong Yun Supply Chain Management Co.,Ltd. သို့ ၎င်းတို့၏ အစုရှယ်ယာ (၁၀၀%) အား လွှဲပြောင်းခဲ့ကြောင်း၊ ကုမ္ပဏီတွင်လည်း မူလဒါရိုက်တာ (၂)ဦး အစား ဒါရိုက်တာအသစ်(၃)ဦးဖြင့် ပြန်လည်ပြင်ဆင်ဖွဲ့စည်းခဲ့ကြောင်း၊ အဆိုပါကုမ္ပဏီ၏ အစုရှယ်ယာလွှဲပြောင်းမှု နှင့်ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှလည်း အစုရှယ်ယာများလွှဲပြောင်းခွင့်ပြုခဲ့ပြီဖြစ်ကြောင်း၊ သို့ဖြစ်ပါ၍ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ မှ ထုတ်ပေးထားသည့် အတည်ပြုမိန့်ကတ်ပြားရှိ ရင်းနှီးမြှုပ်နှံသူအမည်တွင် ဖော်ပြထားသော **“ Mr. Yuan Lichi”** ဟူသည့် အမည်အစား **“Mr.Tang Hui”** ဟူသည့် အမည်အား ပြောင်းလဲပြင်ဆင် ခွင့်ပြုပါရန် တင်ပြဆွေးနွေးပါသည်။

၁၆။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က အဆိုပါ အတည်ပြုမိန့်ပြင်ဆင်မှုများ နှင့်ပတ်သက်ပြီး ကန့်ကွက်ရန်မရှိပါကြောင်း ဆွေးနွေးပြောကြားပါသည်။ ယင်းနောက် ကော်မတီဥက္ကဋ္ဌက မွန်ပြည်နယ်အတွင်း မိမိတို့ အစိုးရလက်ထက် ခွင့်ပြုပေးခဲ့သော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ စာရင်းဇယားအား ပြုစုပေးပို့ရန် လမ်းညွှန်မှာကြားပါသည်။

**ဆုံးဖြတ်ချက်**

၁၇။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည်-

| စဉ် | အကြောင်းအရာ | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၂/၂၀၂၀) တွင်ဆွေးနွေးဆုံးဖြတ်ခဲ့သောအစည်းအဝေး မှတ်တမ်းနှင့်ယင်းအစည်းအဝေး ဆုံးဖြတ်ချက်များ အရ အတည်ပြုမိန့်များထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီဝင်များ၊ |
| (ခ) | Kim Chain Yue Co.,Ltd.၏ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ဦးပိုင်အမှတ်(N/၃၁)၊ကွင်းအမှတ်-၁၁၆၂ (ခ)၊ စန္ဒါးကြကွင်းတွင် တိရိစ္ဆာန်အစာထုတ်လုပ် မည့် လုပ်ငန်းအား ခွင့်ပြုရန်နှင့်အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |
| (ဂ) | Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ မော်လမြိုင်မြို့၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် ( ၁၅/၇+ ၁၅/၉) ၊ ကွင်း အမှတ်(၃၀/က)၊ အုတ်ဖိုကွင်းတွင် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |
| (ဃ) | မွန်ပြည်နယ်ရင်းနှီး မြှုပ်နှံမှုကော်မတီ၏ ၂၅-၉-၂၀၁၈ ရက်စွဲပါ အတည်ပြုမိန့်အမှတ်၊ မပန-၀၀၅/၂၀၁၈ဖြင့် သံဖြူဇရပ်မြို့နယ်၊ စခန်းကြီးကျေးရွာအုပ်စု ၊ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |

ဦးပိုင်အမှတ် (၈၃၈)၊ ကွင်းအမှတ်- O.S.S-9၊ ကြေးတိုင်ပြင်ကွင်းရှိ မြေဧရိယာ(၁၀.၀၈)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ငန်းဆောင်ရွက် လျက်ရှိ သော Myanmar Hua Qiang Wood Industrial Co.,Ltd. ၏ အတည်ပြုမိန့် ကတ်ပြားပေါ်ရှိ လုပ်ငန်းအမျိုးအစား (type of Business) တွင် "ရာဘာသစ်အသုံးပြု၍ အထပ်သားလွှာနှင့် အချောသပ်အထပ်သားထုတ်လုပ် ခြင်းလုပ်ငန်း" အစား "ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း" ဟူ၍ ပြန်လည်ပြင်ဆင်ခွင့်ပြုရန်။

| | | |
|---|---|---|
| (င) | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၄-၅-၂၀၁၉ ရက်စွဲပါ အတည်ပြု မိန့်အမှတ် MON-006/2019 ဖြင့် မုဒုံမြို့နယ်၊ တာပတွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂၂+၂၃/၁+၂၁/၂+၃၂/၃)၊ ကွင်းအမှတ်(၈၁၅)၊ သာယာကုန်းကွင်းရှိ မြေဧရိယာ(၉.၀၅)ဧကတွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လျက်ရှိသော Sen Hui Yuan International Trading Co.,Ltd. ၏ အတည်ပြုမိန့်ကတ်ပြားရှိ ရင်းနှီး မြှုပ်နှံသူအမည်တွင် ဖော်ပြထားသော " Mr. Yuan Lichi" ဟူသည့် အမည်အစား "Mr.Tang Hui" ဟူသည့် အမည်အား ပြောင်းလဲပြင်ဆင် ခွင့်ပြုရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |
| (စ) | လက်ရှိအစိုးရလက်ထက်တွင် မွန်ပြည်နယ်ရင်းနှီး မြှုပ်နှံမှုကော်မတီက ခွင့်ပြုခဲ့သော ရင်းနှီးမြှုပ်နှံမှု စာရင်းအား မွန်ပြည်နယ်ဝန်ကြီးချုပ်ထံ ပြုစုတင်ပြရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |

**အစည်းအဝေးပြီးဆုံးခြင်း**

၁၈။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၃/၂၀၂၀)အား (၁၄:၄၅)နာရီအချိန်တွင် ပြီးဆုံးပါသည်။

မှတ်တမ်းတင်သူ

စောလင်းအောင်
ဒုတိယညွှန်ကြားရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး

စာအမှတ်၊ မရက/၆/ အစည်းအဝေး/ ၂၀၂၀ ( ၀၃၈ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဩဂုတ် လ ၆ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ရုံးလက်ခံ
မျှောစာတွဲ

(၅-၈-၂၀၂၀) ရက်နေ့(ဗုဒ္ဓဟူးနေ့)၊ မွန်းလွဲ (၁၄:၀၀)နာရီအချိန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တက်ရောက်သူများ လက်မှတ်ရေးထိုးခြင်းမှတ်တမ်း

| စဉ် | အမည် | ရာထူး | ဌာန | လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါက်တာအေးဇံ | ဝန်ကြီးချုပ် | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၂ | ဦးဝဏ္ဏကျော် | ပြည်နယ်ဝန်ကြီး | ပြည်နယ်စီမံ/ဘဏ္ဍာဝန်ကြီး | |
| ၃ | ဦးလှဝင်းတင် | အတွင်းရေးမှူး | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၄ | ဦးတင်ညို | ညွှန်ကြားရေးမှူး | ပြည်နယ်စက်မှုကြီးကြပ် | |
| ၅ | ဦးအောင်အောင်လေး | ညွှန်ကြားရေးမှူး | ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေး | |
| ၆ | ဦးဝင်းဘို | ပြည်နယ်လျှပ်စစ် အင်ဂျင်နီယာ | ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေး | |
| ၇ | | ပြည်နယ်ဦးစီးမှူး | ရင်းနှီး/ကုမ္ပဏီဦးစီးဌာန | |
| ၈ | | | | |
| ၉ | | | | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၆၅ စာအမှတ်၊မရက/ ၆/အစည်းအဝေး/၂၀၂၀(၇၅)

ဖက်(စ်) - ၀၅၇-၂၀၂၃၈၅ ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ၊ ဇူလိုင် လ ၂၉ ရက်

အကြောင်းအရာ။ **အစည်းအဝေးဖိတ်ကြားခြင်း**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏( ၃ /၂၀၂၀) ကြိမ်မြောက်အစည်းအဝေးကို အောက်ပါ အစီအစဉ်အတိုင်းကျင်းပပြုလုပ်မည်ဖြစ်ပါ၍ ကြွရောက်ပါရန် ဖိတ်ကြားအပ်ပါသည် -

(က) ကျင်းပမည့် နေ့ရက် - ၅- ၈ - ၂၀၂၀ (ဗုဒ္ဓဟူးနေ့)

(ခ) ကျင်းပမည့် အချိန် - ၁၄:၀၀ နာရီ

(ဂ) ကျင်းပမည့် နေရာ - မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်း

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဝင်များအားလုံး မပျက်မကွက် တက်ရောက်ပေးပါရန် မေတ္တာရပ်ခံလျက် အစည်းအဝေးအစီအစဉ်နှင့်အမှာစာများအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(လှဝင်းတင်၊ ခေတ္တအတွင်းရေးမှူး)

**ဖြန့်ဝေခြင်း**

ဒေါက်တာအေးဇံ (မွန်ပြည်နယ်ဝန်ကြီးချုပ်)

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝဏ္ဏကျော် (မွန်ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

အဖွဲ့ဝင်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

Committee invitation

ဦးလှဝင်းတင် (အတွင်းရေးမှူး၊ မွန်ပြည်နယ်အစိုးရအဖွဲ့)
ခေတ္တအတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးတင်ညို (ပြည်နယ်ဦးစီးဌာနမှူး၊ ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးအောင်အောင်လေး (ပြည်နယ်ဦးစီးဌာနမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝင်းဘို (ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ၊ မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
Kim Chain Yue Company Limited
Myanmar Car & Motorcycle Sale Centre Co.,Ltd.
Myanmar Hua Qiang Wood Industrial Co.,Ltd.
Sen Hui Yuan International Trading Co.,Ltd.
ရုံးလက်ခံ
မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အစည်းအဝေးအမှတ်စဉ် ( ၃ /၂၀၂၀ )
# အစည်းအဝေးအစီအစဉ်

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း၊

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂ /၂၀၂၀)ကြိမ်မြောက်အစည်းအဝေးမှတ်တမ်းအား အတည်ပြုမှတ်တမ်းတင်ခြင်း၊

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂ /၂၀၂၀) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ခြင်း၊

၄။ အတည်ပြုလျှောက်ထားလွှာတင်ပြလာမှုများအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် ဆွေးနွေးဆုံးဖြတ်ခြင်း–

(က) Kim Chain Yue Co.,Ltd. ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရိစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း

(ခ) Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ အတည်ပြုမိန့်ကတ်ပြားပြင်ဆင်ရေးအတွက် ဆွေးနွေးဆုံးဖြတ်ခြင်း–

(က) Myanmar Hua Qiang Wood Industrial Co.,Ltd. ၏ အတည်ပြုမိန့်တွင် လုပ်ငန်း အမျိုးအစား ပြင်ဆင်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

(ခ) Sen Hui Yuan International Trading Co.,Ltd. ၏ အတည်ပြုမိန့်တွင် ရင်းနှီးမြှုပ်နှံသူအမည် ပြောင်းလဲပြင်ဆင်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

၆။ ဥက္ကဋ္ဌမှ နိဂုံးချုပ်ပြောကြားခြင်း၊

၇။ အစည်းအဝေး ပြီးဆုံးခြင်း ။




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**
မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅
ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/ ၂ / နငသ /၂၀၂၀ ( ၀၂၄ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇွန် လ ၁၆ ရက်

သို့
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ
မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း

ပြည်နယ်ဦးစီးမှူးရုံး
ကုန်လမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက်။ Myanmar Car & Motorcycle Sale Center Co.,Ltd. ၏ ၉- ၆ -၂၀၂၀ ရက်စွဲပါ တင်ပြစာ

၁။ Myanmar Car & Motorcycle Sale Center Co., Ltd. မှ မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ်- (၁၅/၇)+(၁၅/၉)၊ ကွင်းအမှတ်-၃၀/က၊ အုတ်ဖိုကွင်းရှိ စုစုပေါင်းမြေဧရိယာ(၁.၅၉)ဧကတွင် SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

Recommended

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၇၂ (ခ)အရ အတည်ပြုလျှောက်ထားလွှာအား လက်ခံရရှိသည့်နေ့ရက်မှ ရက်ပေါင်း (၃၀)အတွင်း စိစစ်ပြီး မွန်ပြည်နယ်ဝန်ကြီးချုပ်ဥက္ကဋ္ဌ အဖြစ်ပါဝင်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေးသို့ တင်ပြဆုံးဖြတ်၍ အတည်ပြုမိန့် ထုတ်ပေးရမည်ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ **တိုင်းဒေသကြီးနှင့်ပြည်နယ်အတွင်းဆောင်ရွက်မည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအားစိစစ်ရာတွင် လိုက်နာကျင့်သုံးရမည့် လုပ်ထုံးလုပ်နည်း အပိုဒ် ၂၄ အရ " ကော်မတီသည် အတည်ပြုလျှောက်ထားလွှာအား စိစစ်ရာတွင် သတ်မှတ်ထားသည့်အချိန်ကာလအတွင်းပြီးမြောက်ရန် အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများနှင့်ဆွေးနွေးတိုင်ပင်နိုင်သည် "** ဟု ဖော်ပြပါရှိသဖြင့် အထက်ပါ Myanmar Car & Motorcycle Sale Center Co., Ltd. ၏ SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်တင်ပြလာခြင်းနှင့်ပတ်သက်ပြီး သက်ဆိုင်ရာဌာန၏ ဥပဒေလုပ်ထုံးလုပ်နည်း သဘောထားမှတ်ချက်အား ၂၀၂၀ ပြည့်နှစ်၊ ဇွန်လ( ၂၃ ) ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် လျှောက်ထားလွှာတစ်စုံ ပူးတွဲပေးပို့သည်နှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၄။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ဦးစိုးမင်းဦး၊ ဖုန်းအမှတ် ၀၉-၉၇၀၀၇၉၅၂၃ သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

( လှဝင်းတင်၊ ခေတ္တအတွင်းရေးမှူး )

မိတ္တူကို

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး၊ မွန်ပြည်နယ်အစိုးရအဖွဲ့

Myanmar Car & Motorcycle Sale Center Co., Ltd.

ရုံးလက်ခံ

မျှောစာတွဲ

Recommended




**ကန့် သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မဉ္ဇူလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက / ၂ / နသေ / ၂၀၂၀ ( ၀၃၇)

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇူလိုင် လ ၂၉ ရက်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Car & Motorcycle Sale Centre Company Limited ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ **Myanmar Car & Motorcycle Sale Centre Co.,Ltd.** မှ မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ်- (၁၅/၇ + ၁၅/၉)၊ ကွင်းအမှတ်- (၃၀/က) ၊ အုတ်ဖိုကွင်းရှိ စုစုပေါင်း မြေဧရိယာ(၁.၅၉)ဧကတွင် SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ **Myanmar Car & Motorcycle Sale Centre Co.,Ltd.** သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-101244377 ဖြင့် ၁၁-၇-၂၀၁၇ ရက်နေ့တွင်မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၂)ဦးဖြင့် ဖွဲ့စည်းထားပါသည်-

(က) ဒေါ်သဉ္ဇာဦး (မြန်မာနိုင်ငံသား) အစုရှယ်ယာ ၆၀%

(ခ) ဦးစိုးမင်းဦး (မြန်မာနိုင်ငံသား) အစုရှယ်ယာ ၄၀%

၃။ **Myanmar Car & Motorcycle Sale Centre Co.,Ltd.** ၏ ငွေကြေးပိုင်ဆိုင်မှုအထောက်အထားအဖြစ် ၅-၆-၂၀၂၀ ရက်နေ့အထိ ကျပ် ၅၀.၁၀၀ သန်းခန့် ရှိကြောင်း AYA Bank Ltd. (Mawlamyine Branch-2) ၏ Bank Statement တင်ပြထားပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ်-(၁၅/၇)+(၁၅/၉)၊ ကွင်းအမှတ်-(၃၀/က) ၊ အုတ်ဖိုကွင်းရှိ စုစုပေါင်းမြေဧရိယာ (၁.၅၉) ဧက အား **Myanmar Car & Motorcycle Sale Centre Co.,Ltd.** မှ SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်

ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိထားပြီးဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလ မှာ (၆ )လ ဖြစ်ပါသည်။

၆။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၅၀၃.၂၄၅ (US$ 74500 အပါအဝင်) ဖြစ်ပြီး အောက်ပါအတိုင်း ဖော်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | - | ကျပ် ၂၀၀.၀၀၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာ | - | ကျပ် ၁၀၅.၀၄၅ သန်း ( USD 74500 အပါအဝင်) |
| (ဂ) | ရုံးသုံးပစ္စည်း | - | ကျပ် ၄၈.၂၀၀ သန်း |
| (ဃ) | အဆောက်အဦတန်ဖိုး | - | ကျပ် ၁၅၀.၀၀၀ သန်း |
| | စုစုပေါင်း | - | ကျပ် ၅၀၃.၂၄၅ သန်း |

၇။ လုပ်ငန်းကြောင့် ဒေသခံပြည်တွင်းဝန်ထမ်း (၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ ဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၅၀၀၀၀၀ိ/-) ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၂၀၀၀၀၀ိ/-)ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ဝန်ထမ်းများ၏ လစာမှဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူ ကောက်ခံပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်နှင့် ဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၈။ လုပ်ငန်းမှထွက်ရှိသော မော်တော်ဆိုင်ကယ်များကို ပြည်တွင်း(၁၀၀%) ရာနှုန်းပြည့် ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုပစ္စည်းနမူနာများ ပူးတွဲတင်ပြထားပါသည်။ ထုတ်လုပ်မှုအရေအတွက် နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | လစဉ်ထုတ်လုပ်မှုအရေအတွက် (အစီးရေ) | ဈေးနှုန်း (ကျပ်/အစီးရေ) |
|---|---|---|---|
| (က) | Honda Wave I (110 CC) | 80 | 1900000 |
| (ခ) | Honda Wave I (125 CC) | 100 | 2550000 |
| (ဂ) | Honda Click I (125 CC) | 100 | 2380000 |
| (ဃ) | Honda Click I (150 CC) | 100 | 2750000 |

| | | | |
|---|---|---|---|
| (င) | Honda Scoopy I (125 CC) | 80 | 2000000 |
| (စ) | Honda Wave Alpha (110 CC) | 500 | 1350000 |
| (ဆ) | Yamaha R-15/ 150 CC | 40 | 3700000 |
| | **စုစုပေါင်း** | **1000** | |

၉။ လုပ်ငန်းတွင်လိုအပ်သောလျှပ်စစ်ဓါတ်အားအတွက် (100) KVA Transformer (၁)လုံးအား တင်ပြလျှောက်ထားဆောင်ရွက်သွားမည်ဖြစ်ပြီး အရံမီးစက် Generator (45) KVA (၁)လုံး အသုံးပြုဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာ ဒီဇယ်(၅၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေးအတွက် အဝီစိတွင်း(၁)တွင်း တူးဖော်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက် နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၂။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) **မွန်ပြည်နယ်ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန** က SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း နှင့်ပတ်သက်ပြီး ကန့်ကွက်ရန်မရှိကြောင်းနှင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခွင့်ရရှိပါက ထုတ်လုပ်ရရှိလာသော မော်တော်ဆိုင်ကယ်များကနဦးမှတ်ပုံတင်ခြင်းအား ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန (ရုံးချုပ်)၏ ခွင့်ပြုချက်ဖြင့် ကနဦးမှတ်ပုံတင်လိုသည့် မှတ်ပုံတင်ရုံးတွင် ဆောင်ရွက်ရမည်ဖြစ်ကြောင်း သဘောထားပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ-က)**

(ခ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - **(နောက်ဆက်တွဲ- ခ)**

(၁) SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့် စက်ရုံအဆောက်အဦနှင့်တည်နေရာသည် သဘာဝဘေးအန္တရာယ်ရှိနိုင်သည့် အခြေအနေမရှိရန်၊

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊
(၃) စက်ရုံအား လေဝင်လေထွက်ကောင်းရန်နှင့် အလုပ်သမားများ၏ ကျန်းမာရေး ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ရန်၊
(၄) လုပ်ငန်းအတွင်းလျှပ်စစ်အန္တရာယ်မဖြစ်ပေါ်စေရန်ဆောင်ရွက်ရန်နှင့်ညွှန်ကြားချက်များအား လိုက်နာရန်၊
(၅) တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်

(ဂ) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း** က SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ကုမ္ပဏီမှ၁၁ကေဗီဓာတ်အားလိုင်း (၁၀၀)ပေနှင့် ၁၁/၀.၄ ကေဗီ (၁၀၀)ကေဗီအေ ထရန်စဖော်မာ (၁)လုံးအား တည်ဆောက်ခွင့်ပြုမိန့်ရရှိပါက ဌာနသတ်မှတ်စံချိန်စံညွှန်းနှင့် အညီ ဓါတ်အားရယူသုံးစွဲရမည်ဖြစ်ကြောင်းနှင့် အဆိုပါလုပ်ငန်းပတ်သက်ပြီး ဌာနအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**က SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း နှင့်ပတ်သက်ပြီး အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားပြန်ကြားထားပါသည်-
(၁) မတော်တဆထိခိုက်မှုများအား တားဆီးကာကွယ်နိုင်ရေးအတွက် အရေးပေါ်တုန့်ပြန်မှုအစီအမံ (Emergency Response Plan)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအမံ ( Waste Management Plan- WMP)များ ပါဝင်သော ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေမည့် အစီအစဉ် (Environmental Impact Mitigation Plan- EIMP) အား ရေးဆွဲဆောင်ရွက်သွားရန်၊
(၂) Exhaust Fan များ တပ်ဆင်သွားရန်၊
(၃) စိမ်းလမ်းစိုပြေရေး အစီအစဉ်အနေဖြင့် ကြီးမြန် သစ်ပင်များ စိုက်ပျိုးသွားရန်၊
(၄) စက်ရုံဝန်ထမ်းများ အသက်ရှုလမ်းကြောင်းဆိုင်ရာ ကျန်းမာရေးပြဿနာများ မဖြစ်ပွားစေရေးအတွက် နှာခေါင်းစည်း(Mask)များ တပ်ဆင်ဆောင်ရွက်သွားရန်
(၅) မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် မီးသတ်ဆေးဗူးများ၊ မီးသတ်ရေကန်ရေပြည့်ထားရှိရန်နှင့် မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက်များရေးဆွဲဆောင်ရွက်သွားရန်။ **(နောက်ဆက်တွဲ- ဃ)**

(င) မွန်ပြည်နယ်အစိုးရအဖွဲ့၏ (၂၉-၇-၂၀၂၀) ရက်စွဲပါ စာအမှတ်၊၂၀၀/၄-၃/ အဖရ(မွန်)(၀၃၁၂) အရ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ ( နောက်ဆက်တွဲ- င )

၁၃။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Myanmar Car & Motorcycle Sale Centre Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထားသည့် လုပ်ငန်းများတွင် မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/ အဆောက်အဦအား အသုံးပြုထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့်ပြည်သူလူထုအား ကြီးမားသောသက်ရောက်မှု ဖြစ်ပေါ်နိုင်သည့် လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ USD ၅ သန်း အောက်တွင် ရှိခြင်းများကြောင့်မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သောလုပ်ငန်း ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ဃ) (၇၉) (ISIC 3091) အရဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇အရ ဇုန်(၂) တွင် ပါဝင်ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်းလုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအတွက် အကောက်ခွန်ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့် လုပ်ငန်း ဖြစ်ပါသည်။

(င) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(စ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **Myanmar Car & Motorcycle Sale Centre Co.,Ltd.** မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ်- (၁၅/၇)+(၁၅/၉)၊ ကွင်းအမှတ်- (၃၀/က) ၊ အုတ်ဖိုကွင်းရှိ စုစုပေါင်းမြေဧရိယာ(၁.၅၉) ဧကတွင် SKDစနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအား အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဦးကျော်ဌေး (ကိုယ်စား)
( လုပ်ငန်းတင် ၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

အကြောင်းအရာ။ Myanmar Car & Motorcycle Sale Centre Co.,Ltd. မှ ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Car & Motorcycle Sale Centre Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးစိုးမင်းဦး ၊ ဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် (၁၅/၇ + ၁၅/၉)၊ ကွင်းအမှတ် (၃၀/က) ၊ အုတ်ဖိုကွင်း၊ မြို့ပတ်လမ်း၊ မြေနီကုန်းရပ်၊ မော်လမြိုင်မြို့ |
| ၃။ | မြေပိုင်ရှင် | - ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| | မြေအကျယ်အဝန်းနှင့် အမျိုးအစား | - ၁.၅၉ ဧက ( ၆၅၁၄.၀၀၇၄ စတုရန်းမီတာ) လယ်ယာမြေအမျိုးအစား |
| | အဆောက်အဦ အရေအတွက် | Factory ( Steel Structure) (100x100) ၁ လုံး<br>Office Room (30x30) ၁ လုံး<br>Fire Safety System (12x24) ၁ လုံး<br>Toliet/ Shower/Water Tank (30x30) ၁ လုံး<br>**စုစုပေါင်း** ၄ လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | - ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| | မြေ/ အဆောက်အဦ ငှားရမ်း / အသုံးပြုခွင့်သက်တမ်း | - ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၅၀၃.၂၄၅ သန်း ( US$ 74500 အပါအဝင် ) |
| | ထည့်ဝင်သည့်အမျိုးအစား | |
| | (က) ငွေသား | - ကျပ်သန်း ၂၀၀.၀၀၀ |
| | (ခ) စက်ပစ္စည်းကိရိယာ | - ကျပ်သန်း ၁၀၅.၀၄၅ ( USD 74500 အပါအဝင်) |
| | (ဂ) ရုံးသုံးပစ္စည်းများ | - ကျပ်သန်း ၄၈.၂၀၀ |

| | | | | |
|---|---|---|---|---|
| | (ဃ) အဆောက်အဦ တန်ဖိုး ကုန်ကျစရိတ် | - ကျပ်သန်း ၁၅၀.၀၀၀ | | |
| | စုစုပေါင်း | - ကျပ် ၅၀၃.၂၄၅ သန်း ( US$ 74500 အပါအဝင် ) | | |
| ၇။ | ရောင်းချမှုနည်းစနစ် | ပြည်တွင်း(100%) | | |
| ၈။ | ရောင်းချမှုနှင့် ဈေးနှုန်း | | လစဉ်ထုတ်လုပ်မှုအရေအတွက် (အစီးရေ) | ဈေးနှုန်း ( ကျပ်/ အစီးရေ ) |
| | Honda Wave I (110 CC) | | 80 | 1900000 |
| | Honda Wave I (125 CC) | | 100 | 2550000 |
| | Honda Click I (125 CC) | | 100 | 2380000 |
| | Honda Click I (150 CC) | | 100 | 2750000 |
| | Honda Scoopy I (125 CC) | | 80 | 2000000 |
| | Honda Wave Alpha(110 CC) | | 500 | 1350000 |
| | Yamaha R-15/ 150 CC | | 40 | 3700000 |
| | စုစုပေါင်း | | 1000 | |
| ၉။ | ဝန်ထမ်းခန့်ထားမှု နှင့် လစာ | | ပြည်တွင်း | ပြည်ပ |
| | | - ဦးရေ | ၅၅ ဦး | - |
| | | - အမြင့်ဆုံးလစာ | ကျပ် ၅၀၀၀၀၀ | |
| | | - အနိမ့်ဆုံးလစာ | ကျပ် ၂၀၀၀၀၀ | |
| ၁၀။ | အခြားတင်ပြချက် | - Myanmar Car & Motorcycle Sale Centre Co.,Ltd.သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-101244377 ဖြင့် ၁၁.၇.၂၀၁၇ ရက်နေ့တွင် မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၂)ဦးဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ် (၅.၆.၂၀၂၀) ရက်နေ့ထိကျပ် ၅၀.၁၀၀ သန်း ရှိကြောင်း AYA Bank Ltd. ( Mawlamyine Branch-2) ၏ Bank Statement ဖော်ပြထားပါသည်။ | | |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ ဦးပိုင်အမှတ် (၁၅/၇ + ၁၅/၉)၊ ကွင်းအမှတ် (၃၀/က)၊ အုတ်ဖိုကွင်း၊ မြို့ပတ်လမ်း၊ မြေဧရိယာ ( ၁.၅၉ ) ဧကအား လယ်ယာမြေအခြားနည်း အသုံးပြုခွင့်ရရှိထားပြီးဖြစ် ကြောင်းတွေ့ရှိရပါသည်။<br>- မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထား ရှိမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာန များ၏လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်း များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိ ဝန်ခံမှုပြုထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 3091 ဖြစ်ပြီး MIC အမိန့်ကြော်ငြာစာအမှတ်၊၁၃/၂၀၁၇ အပိုဒ်(၁)(ဃ) အမှတ်စဉ် (၇၉) အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင်ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သောမွန်ပြည်နယ်၊မော်လမြိုင်မြို့နယ် သည် MICအမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန်(၂ ) တွင်ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(ဂ)အရ ဝင်ငွေခွန်ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သော လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |



ပြည်နယ်ဦးစီးမှူးရုံး(မော်လမြိုင်)
ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
မော်လမြိုင်မြို့
စာအမှတ်၊ ဆအ-၀၃၁ /၂၀၂၀ / [illegible]
ရက်စွဲ ၂၀၂၀ပြည့်နှစ်၊ ဇွန်လ ၂၂ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(စာဝင်မှတ်ပုံတင်)
အမှတ်စဉ် ၀၄၅
ရရှိရက်စွဲ ၂၂-၆-၂၀၂၀
ရရှိအချိန် ၁၁း၃၀ [illegible]
လက်ခံသူလက်မှတ် [signature]

သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်၊ မော်လမြိုင်မြို့

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၆-၆-၂၀ရက်စွဲပါစာအမှတ်၊ မရက/၂/နတေ/၂၀၂၀(၀၂၄)

၁။ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသည့် Myanmar Car & Motorcycle Sale Center Co,ltd မွန်ပြည်နယ် မော်လမြိုင်မြို့ SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန၊ ပြည်နယ်ရုံး(မော်လမြိုင်)အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားဖော်ပြအပ်ပါသည်။

၂။ အဆိုပါကုမ္ပဏီမှ SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိပါကထုတ်လုပ်ရရှိလာသော မော်တော်ဆိုင်ကယ်များ ကနဦးမှတ်ပုံတင်ခြင်းအား ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)၏ ခွင့်ပြုချက်ဖြင့် ကနဦးမှတ်ပုံတင်ဆောင်ရွက်လိုသည့် မှတ်ပုံတင်ရုံးတွင်ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း သိရှိနိုင်ပါရန်တင်ပြအပ်ပါသည်။

[signature] ၂၂.၆.၂၀
( သိဂီတိုး )
ပြည်နယ်ဦးစီးမှူး

မိတ္တူကို-
လက်ခံစာတွဲ။

1

**နောက်ဆက်တွဲ- (ခ)**



ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၂၀(၂၁၂၁)
ရက်စွဲ ၊ ၂၀၂၀ ပြည့် နှစ် ၊ ဇွန် လ ၂၂ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ……၀၄၇……
ရရှိရက်စွဲ ……၂၃-၆-၂၀၂၀……
ရရှိအချိန် ……၁၁:၀၀ နာရီ……
လက်ခံသူလက်မှတ် ……(signature)……

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၆.၆.၂၀၂၀) ရက်စွဲပါ စာအမှတ်၊ မရက/ ၂/ နငသ /၂၀၂၀ (၀၂၄)

၁။ **Myanmar Car & Motorcycle Sale Center Co.,Ltd** သည် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မြေနီကုန်းရပ်၊ မြို့ပတ်လမ်း၊ဦးပိုင်အမှတ်- (၁၅/၇)+ (၁၅/၉)၊ကွင်းအမှတ် (၃၀/က)၊ အုတ်ဖိုကွင်းရှိ စုစုပေါင်းမြေဧရိယာ (၁.၅၉)ဧကတွင် SKD စနစ်ဖြင့်မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့် လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များ ဆောင်ရွက်ရန်လိုပါသည်-

(က) SKD စနစ်ဖြင့် မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦ နှင့်တည်နေရာသည်ပတ်ဝန်းကျင် ဘေးအန္တရာယ်ရှိနိုင်သည့် အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် တင်ပြထားသော မီးဘေးအန္တရာယ် ကာကွယ်ရေးနှင့် မီးဘေးလုံခြုံရေးစီမံချက်များအတိုင်း ဓာတ်တိုက်လေ့ကျင့် သွားရန်လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်းကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ် ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွားရန်နှင့် သက်ဆိုင်ရာဌာန ၏ စိစစ်ချက်ညွှန်ကြားချက်အပေါ် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) အလုပ်ရုံလေဝင်လေထွက်ကောင်းစေရန်နှင့် အလုပ်သမားများ၏ ကျန်းမာရေး ဘေးအန္တရာယ်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) လုပ်ငန်းအတွင်း လျှပ်စစ်အန္တရာယ်မဖြစ်ပေါ်စေရန် သက်ဆိုင်ရာဌာန၏အန္တရာယ် ကင်းရှင်းရေးဆောင်ရွက်ရန်၊ညွှန်ကြားချက်အပေါ်လိုက်နာရန်လိုအပ်ပါသည်။

(င) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ် ပါသည်။

